# Bel Ga Myanmar Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
# လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
## မျိုးရင်းကြက် မွေးမြူထုတ်လုပ်ရေး လုပ်ငန်း (Parent Stock Farm)

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၈-၁-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၁၄-၁-၂၀၁၉ | ၂၁-၁-၂၀၁၉ | |
| | - စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၁၄-၁-၂၀၁၉ | ၃၁-၁-၂၀၁၉ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၃/၂၀၁၉ (၁၄-၁-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၁၆-၁-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင် တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၂၂-၁-၂၀၁၉ | ၃၀-၁-၂၀၁၉ | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၃/၂၀၁၉ (၂၀-၂-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၄) ရက်** | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Bel Ga Myanmar Limited

**လုပ်ငန်းအမျိုးအစား** မျိုးရင်းကြက် မွေးမြူထုတ်လုပ်ရေး လုပ်ငန်း (Parent Stock Farm)

**PATအကြိမ်/နေ့စွဲ** ၃/၂၀၁၉ (၁၄-၁-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | ကြက်ခြံ၏ Layout Plan တင်ပြရန်။ | ✓ | |
| ၂ | CSR ဆောင်ရွက်မှု အစီအစဉ် အသေးစိတ် တင်ပြပေးရန်။ | ✓ | |
| ၃ | အမှန်တကယ် ခန့်အပ်မည့် ဝန်ထမ်းအင်အားစာရင်း တင်ပြပေးရန်။ | ✓ | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ မျိုးရင်းကြက် မွေးမြူထုတ်လုပ်ရေး လုပ်ငန်း(Parent Stock Farm)အား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Bel Ga Myanmar Limited<br>- Mr. Carl Albert M. Destrooper (Belgian) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>BDH Azie BV (Netherlands) နှင့် ၉၉.၉၉၉၈%<br>De Heus (Myanmar) Limited (Myanmar) ၀.၀၀၀၂% |
| | လုပ်ငန်းအမျိုးအစား | - မျိုးရင်းကြက်မွေးမြူထုတ်လုပ်ရေးလုပ်ငန်း(Parent Stock Farm) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(၁၁၁၉)၊ ကွင်းအမှတ်(၆၈၀ ခ)၊ လော့်ကားအနောက်ကွင်း၊ လော့်ကားကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - Bel Ga Myanmar Limited (**မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီသို့ မြေအသုံးပြုခွင့် လျှောက်ထားဆဲ**) |
| | မြေအကျယ်အဝန်း | - မြေ (၄၃.၅၀)ဧက |
| ၄။ | အာမခံကြေး | - မြေ တစ်ဧကလျှင် ကျပ် ၁၀,၀၀၀ |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - **အမေရိကန်ဒေါ်လာ ၈.၄၉၂ သန်း ( ဈေးငွေ US$ ၄.၇၃၃ သန်း အပါအဝင်)** |

| | ထည့်ဝင်ငွေ (US$ သန်း) | ဈေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | ၃.၇၅၉ | ၀.၃၅၅ | ၄.၁၁၄ |
| - စက်ပစ္စည်းများ၊ စက်ကိရိယာများ (ပြည်ပ) | - | ၁.၁၇၉ | ၁.၁၇၉ |
| - အဆောက်အဦတန်ဖိုး | - | ၃.၁၉၉ | ၃.၁၉၉ |
| **စုစုပေါင်း** | **၃.၇၅၉** | **၄.၇၃၃** | **၈.၄၉၂** |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - **၅၀ ဦး** |
| | ပြည်တွင်း | - ၄၈ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၄၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၂ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | -ပြည်တွင်း ၁၀၀% |
| | ထုတ်လုပ်မှု(ဒုတိယနှစ်) | |

| စဉ် | အမျိုးအစား | ယူနစ် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း |
|---|---|---|---|---|
| (က) | Hatching Eggs | egg | ၁၂,၄၈၃,၂၀၀ | US$ ၀.၂၅ |
| (ခ) | Chicken | kg | ၁၅၄,၉၈၀ | ကျပ် ၂,၀၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၄၉၅,၅၀၈ kWh |
| ၁၀။ | အခြားတင်ပြချက် | -မြေအထောက်အထားအဖြစ် မြေစာရင်းပုံစံ- ၁၀၅၊ ၁၀၆ များ တင်ပြထားပါသည်။<br>-Bel Ga Myanmar Limited မှ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဗဟို ကော်မတီ၊ နေပြည်တော်သို့ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်း မြေ ၄၃.၄၆ ဧကအတွက် (၁၃-၉-၂၀၁၈)ရက်နေ့စွဲဖြင့် မြေဂရန် လျှောက်ထားသည့် စာတင်ပြထားပါသည်။<br>-လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၊ ပဲခူး မြို့နယ်မှ မြေလွတ် မြေလပ်နှင့်မြေရိုင်းလုပ်ပိုင်ခွင့် အသုံးပြုခွင့် လျှောက်ထားခြင်း ကို ကန့်ကွက်လိုသူက ကန့်ကွက်နိုင်ရန် ထုတ်ဆင့်သည့် ကြော်ငြာစာတွင် ကန့်ကွက်လွှာများမရလျှင် လျှောက်ထား သည့်အတိုင်း Bel Ga Myanmar Limited အား အသုံးပြုခွင့် ပေးမည်ဖြစ်ကြောင်း ကြေညာသည့် အထောက် အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | -ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ Bel Ga Myanmar Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံထားသည့် စာအား တင်ပြထားပါသည်။<br>-စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားထားပါသည်။<br>-ကုမ္ပဏီမှ ချေးငွေ အမေရိကန်ဒေါ်လာ ၄.၇၃၃ သန်း အား International Finance Corporation (IFC)မှ ချေးယူမည်ဖြစ်ပြီး အတိုးနှုန်း နှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>-Bel Ga Myanmar Limited နှင့် International Finance Corporation တို့အကြား ချုပ်ဆိုထားသည့် Facility Agreement (Parent Stock Breeding Farm Project) Draft တင်ပြထားပါသည်။<br>-ပြည်ပမှ တင်သွင်းမည့် US$ ၁,၁၇၈,၇၉၂ တန်ဖိုးရှိ စက်ပစ္စည်းစာရင်း တင်ပြထားပါသည်။<br>-လုပ်ငန်းဆောင်ရွက်ရန် PS DOC နှင့် Feed များကို ဘယ်ဂျီယံနိုင်ငံမှ နှစ်စဉ် တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Bel Ga Myanmar Ltd အမည်ဖြင့် OCBC Bank Yangon Branch တွင် ၂-၁-၂၀၁၉ရက်စွဲဖြင့်US$၁,၂၁၈,၂၃၃.၀၄ ရှိကြောင်း တင်ပြထားပါသည်။<br>-အဆိုပြုလုပ်ငန်း၏ အဆောက်အဦပုံများ၊ တည်နေရာပြ မြေပုံနှင့် Layout Plan တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။<br>- ပဲခူးမြို့၊ မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်း ဦးစီးဌာန၏ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများအား စိုက်ပျိုးရေး လုပ်ငန်းလုပ်ကိုင်လိုသူများအတွက် လုပ်ကိုင်ခွင့်/ အသုံးပြုခွင့် လျှောက်ထားသည့် လုပ်ငန်းစာတွဲများ၊ မြေလွတ်၊ မြေလပ် နှင့် မြေရိုင်း လုပ်ပိုင်ခွင့်အသုံးပြုခွင့် စစ်ဆေးချက် ပုံစံ(၇) ၏ လျှောက်ထားခြင်းနှင့် စပ်လျဉ်း၍ အကြံပြုတင်ပြချက်တွင် ကြက်မွေးမြူရေးလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ကျေးလက်နေ ပြည်သူများ အလုပ်အကိုင် အခွင့်အလမ်း တိုးပွားစေခြင်း၊ တိုင်းရင်းသား လုပ်ငန်းရှင်နှင့် နိုင်ငံတော်အနေဖြင့် ထိုက်သင့် သည့် ကုန်ထုတ်စွမ်းအားစုမှ ဝင်ငွေ ရရှိစေခြင်း၊ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဝင်ငွေများ တိုးပွားလာစေခြင်းတို့ကြောင့် ခွင့်ပြုပေးသင့်ကြောင်း အကြံပြုထားသည်ကို စိစစ် တွေ့ရှိ ရပါသည်။ |

ကန့်သတ်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၄၀/၂၀၁၉( ၀၅၀ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ မျိုးရင်းကြက် မွေးမြူထုတ်လုပ်ရေး လုပ်ငန်း(Parent Stock Farm)အား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ နယ်သာလန်နိုင်ငံရှိ BDH Azie BV မှ (၉၉.၉၉၉၈%) နှင့် မြန်မာနိုင်ငံရှိ De Heus (Myanmar) Limited မှ (၀.၀၀၀၂%) အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နူန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ ဦးပိုင်အမှတ်(၁၁၁၉)၊ ကွင်းအမှတ်(၆၈၀ᵇ)၊ လှော်ကား အနောက်ကွင်း၊ လှော်ကားကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်း မြေ (၄၃.၅၀)ဧကတွင် မျိုးရင်းကြက်မွေးမြူ ထုတ်လုပ်ရေးလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ Bel Ga Myanmar Limited အမည်ဖြင့် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ မြေအသုံးပြုခွင့် လျှောက်ထားစာ၊ မြေစာရင်းပုံစံ- ၁၀၅၊ ၁၀၆ အထောက်အထား များနှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေလွတ်၊မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီသို့ မြေအသုံးပြုခွင့်လျှောက် ထားသော Bel Ga Myanmar Limited သည် မြေတစ်ဧကလျှင် ကျပ် ၁၀,၀၀၀ နှုန်းဖြင့် အာမခံကြေးကို မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ ပေးသွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၈.၄၉၂ သန်း (ချေးငွေ US$ ၄.၇၃၃ သန်း အပါအဝင်) ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၃.၇၅၉ | ၀.၃၅၅ | ၄.၁၁၄ |
| စက်ပစ္စည်းများ၊ စက်ကိရိယာများ(ပြည်ပ) | - | ၁.၁၇၉ | ၁.၁၇၉ |
| အဆောက်အဦတန်ဖိုး | - | ၃.၁၉၉ | ၃.၁၉၉ |
| **စုစုပေါင်း** | ၃.၇၅၉ | ၄.၇၃၃ | ၈.၄၉၂ |

ကန့်သတ်

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၄၈)ဦး နှင့် ပြည်ပ ဝန်ထမ်း (၂) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၅၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၄၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ရရှိသည့် ကြက်ဥများကို မြောင်းတကာသံမဏိစက်မှုဇုန်ရှိ Bel Ga Myanmar Limited မှ ဆောင်ရွက်နေသည့် ကြက်သားပေါက် လုပ်ငန်းသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်-

| စဉ် | အမျိုးအစား | ယူနစ် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း |
|---|---|---|---|---|
| (က) | Hatching Eggs | egg | ၁၂,၄၈၃,၂၀၀ | US$ ၀.၂၅ |
| (ခ) | Chicken | kg | ၁၅၄,၉၈၀ | ကျပ် ၂,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** Bel Ga Myanmar Limited ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ဆောင်ရွက်ခြင်း အပေါ် ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံထားသည့် စာအား တင်ပြထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Bel Ga Myanmar Ltd အမည်ဖြင့် OCBC Bank Yangon Branch တွင် ၂-၁-၂၀၁၉ ရက်စွဲဖြင့် US$ ၁,၂၁၈,၂၃၃.၀၄ ရှိကြောင်း တင်ပြ ထားပါသည်။

၁၀။ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက် နှင့် CSR Project တို့ကို တင်ပြ ထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ဃ) Bel Ga Myanmar Limited သည် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ မြေအသုံးပြုခွင့် လျှောက်ထားဆဲ ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီမှ မြေအသုံးခွင့် ရရှိပြီးမှသာ ခွင့်ပြုမိန့် ထုတ်ပေးမည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bel Ga Myanmar Limited မှ မျိုးရင်းကြက်မွေးမြူထုတ်လုပ်ရေး လုပ်ငန်း(Parent Stock Farm)အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-0464
1-2-19

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၀၄၁ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၂/ ခ-၀၄၀/၂၀၁၉(၀၁၅)

၁။ Bel Ga Myanmar Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ လှော်ကားအနောက်ကွင်း၊ ကွင်းအမှတ် (၆၈၀-ခ) ရှိ မြေ (၄၃.၄၆) ဧကပေါ်တွင် မျိုးရင်းကြက်မွေးမြူထုတ်လုပ်ရေးလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်းအပေါ် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Bel Ga Myanmar Limited မှ ပဲခူးမြို့နယ်ရှိ မြေ (၄၃.၄၆) ဧကပေါ်တွင် မျိုးရင်းကြက်မွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ပဲခူးတိုင်းဒေသကြီးအတွင်း ကြက်မွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ပြီး လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပါသောကြောင့် စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၂) ရုံးလက်ခံ
(၃) မျှော

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၀၅/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်

MIC, 21/1/ သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Bel Ga Myanmar Limited မှ မျိုးရင်းကြက်မွေးမြူထုတ်လုပ်ရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သ ဘောထား မှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၂/ ခ-၀၄၀/ ၂၀၁၉(၀၁၆)

၁။ နယ်သာလန်နိုင်ငံရှိ BDH Azie BV မှ ၉၉.၉၉၉၈% နှင့် မြန်မာနိုင်ငံရှိ De Heus (Myanmar) Limited မှ ၀.၀၀၀၂% အစုရှယ်ယာများထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Bel Ga Myanmar Limited တည်ထောင်ကာ ကွင်းအမှတ်- ၆၈၀/ခ၊ လှော်ကားအနောက်ကွင်း၊ လှော်ကားကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းမြေ ၄၃.၄၆ ဧက (၁၇၅,၈၇၆.၃၆ စတုရန်းမီတာ) တွင် မျိုးရင်းကြက်မွေးမြူ ထုတ်လုပ်ရေးလုပ်ငန်း အားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၁၇၅,၈၇၆.၃၆ စတုရန်းမီတာ) တွင် လိုအပ်သော အဆောက်အဦ အလုံး (၂၀) ခန့် တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ပထမနှစ်တွင် မျိုးကြက်ကောင်ရေ (၃) သောင်းကျော်နှင့် မျိုးကြက်ဥအလုံးရေ (၃) သန်းကျော်နှင့် (၁၀) နှစ်အတွင်း မျိုးကြက်ကောင်ရေ (၁၅) သန်းကျော်နှင့်မျိုးကြက်ဥအလုံးရေ (၁၅) သန်းကျော် မွေးမြူထုတ်လုပ်ကာ ဈေးကွက်အတွင်း ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းအတွက် လိုအပ်သည့် မွေးမြူရေးအစာများကိုလည်း ပြည်ပမှ ပထမနှစ်တွင် မက်ထရစ်တန်ချိန် (၂၅၀၀) ကျော်မှ (၁၀) နှစ်အတွင်း (၅၅၀၀) ကျော်အထိ တင်သွင်းကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Bel Ga Myanmar Limited မှ မျိုးရင်းကြက် မွေးမြူထုတ်လုပ်ရေးလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချော ဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ် စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျ သန့်စင်ခြင်းမရှိဘဲ စွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ မျိုး ကြက်မွေးမြူရာတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန် အသုံးပြုသည့် ဟိုမုန်းဆေးများ၏ အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထု ညစ်ညမ်းခြင်း၊

(င) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးကြက်တွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါ သည်။

၄။ သို့ဖြစ်ပါ၍ Bel Ga Myanmar Limited မှ မျိုးရင်းကြက် မွေးမြူထုတ်လုပ်ရေးလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်

အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ

၁၈၅၂

၅.၁၁.၁၈

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးမြို့

စာအမှတ် ----

ရက်စွဲ ----

အချိန် ----

စာအမှတ်၊ ၆ / ၃ - ၂ / ဦး ၆ (၁၀၂၉၂)

ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

**အကြောင်းအရာ။ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Bel Ga Myanmar Limited ၏ (၄.၁၀.၂၀၁၈) ရက်စွဲပါ တင်ပြစာ

ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ ကွင်းအမှတ် (၆၈၀-ခ)၊ လှော်ကားအနောက်ကွင်းအတွင်းရှိ ဧရိယာ(၄၃.၄၆)ဧကတွင် ကြက်မျိုးရင်းခြံလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်လိုပါသဖြင့် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာအတွက် ထောက်ခံချက်ပေးနိုင်ပါရန် Bel Ga Myanmar Limited မှ ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းနှင့် ပတ်သက်၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံအပ်ပါသည်။

5/11/18

ဝန်ကြီးချုပ်( ကိုယ်စား )

ဦးအောင်ဇော်နိုင်၊ ဝန်ကြီး

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

မိတ္တူကို

- တိုင်းဒေသကြီးမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ပဲခူးမြို့
- Bel Ga Myanmar Limited
- မျှောစာတွဲ
- လက်ခံစာတွဲ